## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ပစိဖိတ် အင်(န်) ကိုမီကွန် အင်တာနေရှင်နယ်(လ်) စတီးကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

❖❖❖❖❖❖❖❖

၁။ **ကုမ္ပဏီ၏အမည်သည် ပစိဖိတ် အင်(န်) ကိုမီကွန် အင်တာနေရှင်နယ်(လ်)စတီး ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။**

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်းဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် **အမေရိကန်ဒေါ်လာ** ၁၀,၀၀၀,၀၀၀/-( **အမေရိကန်ဒေါ်လာ ဆယ်သန်း** တိတိ ) ဖြစ်၍ငွေကျပ် **အမေရိကန်ဒေါ်လာ** ၁၀၀/-( **အမေရိကန်ဒေါ်လာတစ်ရာ** တိတိ ) တန် အစုရှယ်ယာပေါင်း ( ၁,၀၀၀,၀၀၀ ) ခွဲထားပါသည်။ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ အထွေထွေပဋ္ဌာန်းချက်များနှင့်အညီ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၆။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ–

(၁) စတီး(လ်) ပစ္စည်းများအားဖန်တီးပြုလုပ်ပြီး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း။

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန် နှင့် ထွက်ရှိလာသော ကုန်ချောများ ၊ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) အထက်ပါလုပ်ငန်းနှင့် ဆက်နွယ်လျက်ရှိသည့်ဆောင်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန် နှင့်ယင်းလုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများ နှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကိုပြည်ပမှ တင်သွင်းရန်။

၇။ ကုမ္ပဏီမှ သင့်လျော် လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ ၏ စီးပွားရေး လုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည့်သည့် ပုဂ္ဂိုလ် ၊ စီးပွားရေးအဖွဲ့အစည်း ၊ ကုမ္ပဏီ ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသောတရားဥပဒေများ၊အမိန့်ကြော်ငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ထို့အပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့်တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင်လုပ်ငန်းများကို ဆောင်ရွက်မည်ဟုခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်း အရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီး နှင့်ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1 | Komycon Co., Ltd<br>(Represented By)<br>Mr.Han Sang Yong<br>52-8 Chungdam Dong, Kangnam-Ku, Seoul, Korea.<br>(Businessman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 92612473 | 46.22% | |
| 2 | Korus I & D Co., Ltd<br>(Represented By)<br>Mr.Song Yong Woo<br>135-912, 6F, Seo-Lim Building, 649-10, Yeoksam-Dong, Gangnam-Gu, Seoul, Korea.<br>(Businessman) | Incorporated In Korea<br>Korean<br>PP No.<br>M 08131853 | 3.78% | |
| 3 | Aung Naing Myay Service Co., Ltd<br>(Represented By)<br>Ms.Ku Eun Young<br>69, Cheonjung-Ro, 42-Gill, Gangdong-Gu, Seoul, Korea.<br>(Busineswosman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 43799647 | 22.22% | |
| 4 | United Pacific Asia Co., Ltd<br>(Represented By)<br>(a) U Zaw Naing Win<br>No.416, 3rd Floor, Banyar Dala Road, Byine Yae Oh Sin Kwet Thit Quarter, Tamwe, Township, Yangon Region.<br>(Businessman)<br>(b) U Aung Kyaw Moe<br>Building No.208/212, Room No.306, Kun Chan Street (4), Ward No.(4), Kamayut Township, Yangon Region.<br>(Businessman) | Incorporated In Myanmar<br>Myanmar<br>12/ Ma Ga Ta (Naing) 056755<br><br>Myanmar<br>12/ La Ma Na (Naing) 012868 | 27.78% | |

ရန်ကုန်မြို့။ နေ့စွဲ ၊ ၂၀၁၆ ခုနှစ်၊ လ၊ ( ) ရက်။
အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ပစိဖိတ် အင်(န်)ကိုမီကွန် အင်တာနေရှင်နယ်(လ်) ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖❖❖❖❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂)တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍အောက်ပါသက်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ် ထိ သာကန့်သက်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တခုခုအတွက်ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ, တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သက်မှတ်မ , တည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၀,၀၀၀,၀၀၀/-(အမေရိကန်ဒေါ်လာ ဆယ်သန်း တိတိ) ဖြစ်၍ အမေရိကန်ဒေါ်လာ ၁၀/- (အမေရိကန်ဒေါ်လာ တစ်ဆယ်တိတိ) တန် အစုရှယ်ယာပေါင်း(၁,၀၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဌာန်း ချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သောပုဂ္ဂိုလ်များအားသက်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက် နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ ၏ တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့်ပြန်လည် အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသောအခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာ ကိုတင်ပြစေ၍ သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများကအသိအမှတ်ပြုပေးရမည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့်အကြိမ်တိုင်း အတွက်ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်နေရာ နှင့် အချိန်တွင် ပေးသွင်းစေရန် တာဝန်ရှိစေ ရမည်။ ဆင့်ခေါ်မှုတစ်ခု အတွက် အရစ်ကျပေးသွင်းစေခြင်း သို့မဟုတ် ပယ်ဖျက်ခြင်း သို့ မဟုတ် ရွှေ့ဆိုင်းခြင်း တို့ ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးကတစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၅ ) ဦးထက်မများစေရ။
ပထမ ဒါရိုက်တာများသည်–
(၁) Mr.Han Sang Yong
(၂) Mr.Song Yong Woo
(၃) Ms.Ku Eun Young
(၄) U Zaw Naing Win
(၅) U Aung Kyaw Moe တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်း ဒါရိုက်တာအဖြစ် အချိန်အခါအလိုက်သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သောအာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာ တစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( – ) စု ကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကိုလိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ခြယ်ခြင်း ကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေး ထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့်ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊နေရပ်လိပ်စာနှင့်အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| 1 | Komycon Co., Ltd<br>(Represented By)<br>Mr.Han Sang Yong<br>52-8 Chungdam Dong, Kangnam-Ku, Seoul, Korea.<br>(Businessman) | Incorporated In<br>Myanmar<br>Korean<br>PP No.<br>M 92612473 | 46.22% | |
| 2 | Korus I & D Co., Ltd<br>(Represented By)<br>Mr.Song Yong Woo<br>135-912, 6F, Seo-Lim Building, 649-10, Yeoksam-Dong, Gangnam-Gu, Seoul, Korea.<br>(Businessman) | Incorporated In<br>Korea<br>Korean<br>PP No.<br>M 08131853 | 3.78% | |
| 3 | Aung Naing Myay Service Co., Ltd<br>(Represented By)<br>Ms.Ku Eun Young<br>69, Cheonjung-Ro, 42-Gill, Gangdong-Gu, Seoul, Korea.<br>(Busineswosman) | Incorporated In<br>Myanmar<br>Korean<br>PP No.<br>M 43799647 | 22.22% | |
| 4 | United Pacific Asia Co., Ltd<br>(Represented By)<br>(a) U Zaw Naing Win<br>No.416, 3rd Floor, Banyar Dala Road, Byine Yae Oh Sin Kwet Thit Quarter, Tamwe, Township, Yangon Region.<br>(Businessman)<br>(b) U Aung Kyaw Moe<br>Building No.208/212, Room No.306, Kun Chan Street (4), Ward No.(4), Kamayut Township, Yangon Region.<br>(Businessman) | Incorporated In<br>Myanmar<br>Myanmar<br>12/ Ma Ga Ta<br>(Naing) 056755<br><br>Myanmar<br>12/ La Ma Na<br>(Naing) 012868 | 27.78% | |

ရန်ကုန်မြို့၊ နေ့စွဲ ၊ ၂၀၁၆ ခုနှစ်၊ လ၊ ( ) ရက်၊

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## PACIFIC & KOMYCON INTERNATIONAL STEEL COMPANY LIMITED

❖❖❖❖❖❖❖

I. The name of the Company is " PACIFIC & KOMYCON INTERNATIONAL STEEL CO., LTD."

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The Authorised Capital of the Company is USD - 10,000,000/- ( US Dollar Ten Million Only) divided into ( 1,000,000 ) shares of USD - 10/- ( US Dollar Ten Dollar Only) each, with power in General Meeting either to increase, reduced or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**6. The Objective for which the company is established are:**

(1) To do the Manufacturing and Marketing of Fabricated Steel Products.

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above.

(3) To carrry on the business of construction works necessary for the activities mentioned above and other materials necessary to the above mentioned activities.

7. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

**PROVISO:** Provided that the Company shall not exercises any of the above objects whetherin the Union of Myanmar or elsewhere, save on so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Komycon Co., Ltd<br>(Represented By)<br>Mr.Han Sang Yong<br>52-8 Chungdam Dong, Kangnam-Ku, Seoul, Korea.<br>(Businessman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 92612473 | 46.22% | |
| 2 | Korus I & D Co., Ltd<br>(Represented By)<br>Mr.Song Yong Woo<br>135-912, 6F, Seo-Lim Building, 649-10, Yeoksam-Dong, Gangnam-Gu, Seoul, Korea.<br>(Businessman) | Incorporated In Korea<br>Korean<br>PP No.<br>M 08131853 | 3.78% | |
| 3 | Aung Naing Myay Service Co., Ltd<br>(Represented By)<br>Ms.Ku Eun Young<br>69, Cheonjung-Ro, 42-Gill, Gangdong-Gu, Seoul, Korea.<br>(Busineswosman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 43799647 | 22.22% | |
| 4 | United Pacific Asia Co., Ltd<br>(Represented By)<br>(a) U Zaw Naing Win<br>No.416, 3rd Floor, Banyar Dala Road, Byine Yae Oh Sin Kwet Thit Quarter, Tamwe, Township, Yangon Region.<br>(Businessman)<br>(b) U Aung Kyaw Moe<br>Building No.208/212, Room No.306, Kun Chan Street (4), Ward No.(4), Kamayut Township, Yangon Region.<br>(Businessman) | Incorporated In Myanmar<br>Myanmar<br>12/ Ma Ga Ta (Naing) 056755<br><br>Myanmar<br>12/ La Ma Na (Naing) 012868 | 27.78% | |

Yangon : :Dated Day of , 2016.

It is hereby certified that the persons mentioned above put their signature in my presence.

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

## PACIFIC & KOMYCON INTERNATIONAL STEEL COMPANY LIMITED

**************

1. The regulations contained in Table "A" in the First Scehdule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17(2) of the Myanmar Companies Act shall always be deemed to apply to the Company.

### PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty .*

   *(b) Any ivitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

### CAPITAL AND SHARES

3. The Authorised Capital of the Company is USD - 10,000,000/- ( US Dollar Ten Million Only) divided into ( 1,000,000 ) shares of USD - 10/- ( US Dollor Ten Dollor Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destoyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a decreased member shall be recognized by the Directors..

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than (2) and not more than (15).

The First Directors shall be:-

1. Mr.Han Sang Yong
2. Mr.Song Yong Woo
3. Ms.Ku Eun Young
4. U Zaw Naing Win
5. U Aung Kyaw Moe

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absoulte and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorm. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15 A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No | Number of shares taken | Signatures |
|---|---|---|---|---|
| 1 | Komyoon Co., Ltd<br>(Represented By)<br>Mr.Han Sang Yong<br>52-8 Chungdam Dong, Kangnam-Ku, Seoul, Korea.<br>(Businessman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 92612473 | 46.22% | (signed) |
| 2 | Korus I & D Co., Ltd<br>(Represented By)<br>Mr.Song Yong Woo<br>135-912, 6F, Seo-Lim Building, 649-10, Yeoksam-Dong, Gangnam-Gu, Seoul, Korea.<br>(Businessman) | Incorporated In Korea<br>Korean<br>PP No.<br>M 08131853 | 3.78% | (signed) |
| 3 | Aung Naing Myay Service Co., Ltd<br>(Represented By)<br>Ms.Ku Eun Young<br>69, Cheonjung-Ro, 42-Gill, Gangdong-Gu, Seoul, Korea.<br>(Busineswosman) | Incorporated In Myanmar<br>Korean<br>PP No.<br>M 43799647 | 22.22% | (signed) |
| 4 | United Pacific Asia Co., Ltd<br>(Represented By)<br>(a) U Zaw Naing Win<br>No.416, 3rd Floor, Banyar Dala Road, Byine Yae Oh Sin Kwet Thit Quarter, Tamwe, Township, Yangon Region.<br>(Businessman)<br>(b) U Aung Kyaw Moe<br>Building No.208/212, Room No.306, Kun Chan Street (4), Ward No.(4), Kamayut Township, Yangon Region.<br>(Businessman) | Incorporated In Myanmar<br>Myanmar<br>12/ Ma Ga Ta (Naing) 056755<br><br>Myanmar<br>12/ La Ma Na (Naing) 012868 | 27.78% | (signed)<br><br>(signed) |

Yangon :      : Dated      Day of      , 2016.

It is hereby certified that the persons mentioned above put their signature in my presence.

DAW MAR MAR
B.Com,A:A.,C.P.A
CERTIFIED PUBLIC ACCOUNTANT
AUDITOR & CONSULTANT.